# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
## ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊မနသ- ၁၁၀၁/၂၀၁၅ ၂၀၁၅ ခုနှစ်၊ နိုဝင်ဘာလ ၁၉ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ (ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးအောင်ဝင်း

(ခ) **အဘ အမည်** ဦးစောချိုမိ

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၃/ကမန(နိုင်) ၀၆၇၃၃၃

(ဃ) **နေရပ်လိပ်စာ** အမှတ်-(လ-၁/၁၀+၁၁)၊ ဒူးကြားလမ်း၊ ချမ်းမြသာယာရပ်ကွက်၊ ပြည်ကြီးတံခွန်မြို့နယ်၊ မန္တလေးတိုင်းဒေသကြီး

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** Myanmar Shwe Ayeyar Co.,Ltd. (မြန်မာရွှေဧရာကုမ္ပဏီလီမိတက် )

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** စိုက်ပျိုးရေးသုံးဓာတ်မြေဩဇာ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** ရှမ်းပြည်နယ်(မြောက်ပိုင်း)၊ မူဆယ်မြို့နယ် ၊ မူဆယ်ခရိုင်၊ ကွင်းအမှတ်-စက်မှုရပ်၊ ကောင်းမှုတံုရပ်ကွက်၊ မြေကွက်အမှတ် (၄၊ ၅၊ ၆၊ ၇၊ ၈၊ ၉၊ ၁၀၊ ၁၁၊ ၁၂၊ ၁၃၊ ၁၄၊ ၁၅၊ ၁၆၊ ၁၇၊ ၁၈၊ ၁၉) ရှိ မြေဧရိယာ ၃.၆၇၃ ဧက (၁၄၈၆၄.၁၁၆၇၈ စတုရန်းမီတာ)

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ် ၈၁၁.၂၄၉ သန်း (ကျပ်သန်းပေါင်း ရှစ်ရာ တစ်ဆယ့် တစ်နှင့် နှစ်သိမ်း လေးသောင်း ကိုးထောင်ခန့်)

၁၉/၁၁

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
စာအမှတ်.........
ရက်စွဲ.........

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမိန့်ကြော်ငြာစာအမှတ်၊ ၁၀၈ /၂၀၁၅(မနသ)

၂၀၁၅ ခုနှစ် နိုဝင်ဘာလ ၁၉ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော Myanmar Shwe Ayeyar Co., Ltd (မြန်မာရွှေဧရာ ကုမ္ပဏီ လီမိတက်) သည် မြေကွက်အမှတ် (၄၊ ၅၊ ၆၊ ၇၊ ၈ ၊ ၉၊ ၁၀၊ ၁၁၊ ၁၂၊ ၁၃၊ ၁၄၊ ၁၅၊ ၁၆၊၁၇၊၁၈၊၁၉)၊ ကွင်းအမှတ်-စက်မှုရပ်၊ ကောင်းမူးတုံရပ်ကွက်၊ မူဆယ်မြို့နယ်၊ မူဆယ်ခရိုင်၊ ရှမ်းပြည်နယ် (မြောက်ပိုင်း) ရှိ မြေဧရိယာ ၃.၆၇၃ ဧက (၁၄,၈၆၄.၁၁၆၇၈ စတုရန်းမီတာ)တွင် စိုက်ပျိုးရေးသုံး ဓာတ်မြေဩဇာ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား ၂၀၁၅ ခုနှစ် အောက်တိုဘာလ ၃၀ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉/၂၀၁၅ ကြိမ်မြောက် အစည်းအဝေး၌ တင်ပြခဲ့ရာခွင့်ပြုကြောင်းဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂(ခ)အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Myanmar Shwe Ayeyar Co., Ltd (မြန်မာရွှေဧရာ ကုမ္ပဏီ လီမိတက်) အား စိုက်ပျိုးရေးသုံး ဓာတ်မြေဩဇာ ထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ-၁၁၀၀/၂၀၁၅ ကို ထုတ်ပေးလိုက်သည်။

၂။ Myanmar Shwe Ayeyar Co., Ltd (မြန်မာရွှေဧရာ ကုမ္ပဏီ လီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ အခန်း(၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က)ဥပဒေပုဒ်မ ၂၀(က)အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ်စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ) အရ လုပ်ငန်းမှ ရရှိသောအမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(ဃ) အရ လုပ်ငန်းက ထုတ်လုပ်သည့်ပစ္စည်းကို ပြည်ပသို့ တင်ပို့ ရောင်းချလျှင် ထိုသို့တင်ပို့ရောင်းချ၍ရရှိသော အမြတ်ငွေပေါ်တွင် ၅၀ ရာခိုင်နှုန်း အထိ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၅)နှစ်

ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ်အကောင်အထည်ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကိုယင်းသို့ အရှုံးပေါ်ပေါက်သည့်နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်းစတင်တည်ဆောက်မှု ကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင်တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း ကိရိယာ၊ အဆောက်အဦ သို့မဟုတ် လုပ်ငန်းသုံးအခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဆ) ဥပဒေပုဒ်မ ၂၀(ဈ)အရ လုပ်ငန်းတည်ဆောက်မှု ပြီးစီး၍ ပထမသုံးနှစ် အတွက် ကုန်ထုတ်လုပ်ရန် တင်သွင်းသည့် ကုန်ကြမ်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်း အခွန်အကောက်များဖြစ်စေ၊ နှစ်မျိုးစလုံးကိုဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဇ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဈ) ဥပဒေပုဒ်မ ၂၀(ဋ)အရ ပြည်ပသို့တင်ပို့ရန် ထုတ်လုပ်သည့် ပစ္စည်းများအပေါ် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ)အရ ပြည်ပမှတင်သွင်းသည့် ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့်ပစ္စည်း အမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ Myanmar Shwe Ayeyar Co., Ltd (မြန်မာရွှေဧရာ ကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထား သည့် **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ Myanmar Shwe Ayeyar Co., Ltd (မြန်မာရွှေဧရာ ကုမ္ပဏီလီမိတက်) သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေနှင့် အဆောက်အဦ အငှားချထားသူ ဦးလောက်ထယ်(ခ) ကျန်ချိဝှေ့နှင့် အငှားချထားခြင်းခံရသူ Myanmar Shwe Ayeyar Co., Ltd (မြန်မာရွှေဧရာ ကုမ္ပဏီလီမိတက်) တို့ ချုပ်ဆိုမည့် မြေနှင့် အဆောက်အဦ ငှားရမ်းခြင်း သဘောတူစာချုပ်ကို လက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ထမ်းဆောင်ပြီးသည့်အခါ ယင်း သဘောတူ စာချုပ်မိတ္တူ(၅) စောင်ကို ဤကော်မရှင်သို့ မပျက်မကွက်ပေးပို့တင်ပြရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၈။ Myanmar Shwe Ayeyar Co., Ltd (မြန်မာရွှေဧရာ ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးတို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက် ပြီးစီးမှုအခြေအနေကို ကော်မရှင်နှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန တို့သို့ပေးပို့ အစီရင်ခံရမည်။

၉။ Myanmar Shwe Ayeyar Co., Ltd (မြန်မာရွှေဧရာ ကုမ္ပဏီလီမိတက်) သည် နိုင်ငံခြား ကျွမ်းကျင်သူများ ငှားရမ်းခွင့်ကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ ပါ သတ်မှတ်ချက်များ နှင့်အညီ ဤကော်မရှင်သို့ သီးခြားတင်ပြ လျှောက်ထားရမည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင်အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံ

ရေးပြေလည်စေရန် အလေးထားဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေး နှင့် စာရင်းဇယားများ စနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း စီစဥ် ဆောင်ရွက်ရမည်။

၁၀။ Myanmar Shwe Ayeyar Co., Ltd (မြန်မာရွှေဧရာ ကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ် ပေါ်စေရန် အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံ ကတိပြုထားသည့် အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံး လုပ်နည်းများ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။ ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု ဆောင်ရွက် ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေးလုပ်ငန်းသုံးပစ္စည်းများကို အသုံးပြုတတ် စေရန် သင်တန်းများပေးရမည်။

၁၁။ ထို့ပြင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထား သည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက် မကွက်** အစီရင်ခံရမည်။

၁၂။ Myanmar Shwe Ayeyar Co., Ltd (မြန်မာရွှေဧရာ ကုမ္ပဏီလီမိတက်) သည် စိုက်ပျိုးရေးဦးစီးဌာနတွင် မြေသြဇာဖြန့်ဖြူးရောင်းချခွင့်လိုင်စင်နှင့် မြေသြဇာကော်မတီ၏မြေသြဇာ ထုတ်လုပ်ခွင့် မှတ်ပုံတင်လက်မှတ်တို့ကို လျှောက်ထားဆောင်ရွက်ပြီး ယင်းမှတ်ပုံတင်လက်မှတ် (မိတ္တူ)နှင့် လိုင်စင်(မိတ္တူ)များကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ **မပျက်မကွက်** တင်ပြရန် နှင့် ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေအရ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိဆောင်ရွက်ရမည်။

၁၃။ Myanmar Shwe Ayeyar Co., Ltd (မြန်မာရွှေဧရာ ကုမ္ပဏီလီမိတက်) သည် ကနဦး လုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင်သို့ **မပျက် မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်းအကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ် ထားသော ပုံစံဇယားများဖြင့် (သုံး)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြု လုပ်ငန်း၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၄။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ ၍ အတည်ပြုခွင့်ပြုချက်ကို ရယူရမည်။

၁၅။ Myanmar Shwe Ayeyar Co., Ltd (မြန်မာရွှေဧရာ ကုမ္ပဏီလီမိတက်)သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် သက်ဆိုင်ရာဝန်ကြီးဌာနများမှချမှတ်ထားသောတည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များနှင့်အညီ လိုက်နာဆောင်ရွက် ရမည်။

၁၆။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင် တို့ကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂(င)အရ နောင်တွင်မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၇။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(ဇေယျာအောင်)
ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၃ /မ- ၁၁၆၃/ ၂၀၁၅(၁၅၉၀-၈)
ရက်စွဲ၊ ၂၀၁၅ ခုနှစ် နိုဝင်ဘာလ ၈ ရက်

**ဖြန့်ဝေခြင်း**

သမ္မတဦးစီးရုံး
ဒုတိယသမ္မတ(၁)ဦးစီးရုံး
ဒုတိယသမ္မတ(၂)ဦးစီးရုံး
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
မြန်မာနိုင်ငံတော်ဗဟိုဘဏ်

ပြည်ထဲရေးဝန်ကြီးဌာန

လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန

ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန

ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ဘဏ္ဍာရေးဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန

ရှမ်းပြည်နယ်အစိုးရအဖွဲ့ရုံး

ညွှန်ကြားရေးမှူးချုပ်၊ စိုက်ပျိုးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်မှုမြှင့်တင်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံ လုပ်ငန်း

မိတ္တူ

၄

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ဥက္ကဋ္ဌ၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

အုပ်ချုပ်မှုဒါရိုက်တာ၊ Myanmar Shwe Ayeyar Co.,Ltd (မြန်မာရွှေဧရာ ကုမ္ပဏီလီမိတက်)

ကုမ္ပဏီအမည်။ မြန်မာရွှေဧရာ ကုမ္ပဏီလီမိတက်

လုပ်ငန်း။ စိုက်ပျိုးရေးသုံး ဓါတ်မြေသြဇာ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်လက်ခံရရှိခြင်း | ၃-၂-၂၀၁၅ | - | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | - စီမံကိန်းစီစစ်ရေးနှင့် တိုးတက်မှု အစီရင်ခံရေး ဦးစီးဌာန | ၉-၃-၂၀၁၅ | ၁၂-၃-၂၀၁၅ | |
| | - ရှမ်းပြည်နယ်ဒေသကြီးအစိုးရအဖွဲ့ | ၉-၃-၂၀၁၅ | ၁၁-၉-၂၀၁၅ | |
| | - ရှမ်းပြည်နယ်ဒေသကြီးအစိုးရအဖွဲ့သို့ ပထမအကြိမ် နှိုးဆော်စာ ပေးပို့ခြင်း | ၇-၅-၂၀၁၅ | - | |
| | - ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့်သစ်တောရေးရာဝန်ကြီးဌာန | ၉-၃-၂၀၁၅ | ၂၄-၃-၂၀၁၅ | |
| | - စက်မှုဝန်ကြီးဌာန | ၉-၃-၂၀၁၅ | ၂၅-၃-၂၀၁၅ | |
| | - လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန | ၉-၃-၂၀၁၅ | ၉-၄-၂၀၁၅ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးတင်ပြခြင်း(၉/၂၀၁၅) | ၃-၃-၂၀၁၅ | | |
| ၄ | အဆိုပြုလွှာလက်ခံကြောင်းစာ ပေးပို့ခြင်း | ၆-၃-၂၀၁၅ | | |
| ၅ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်း အဝေး ဆုံးဖြတ်ချက် ကုမ္ပဏီသို့ပြန်ကြားခြင်း | ၁၀-၃-၂၀၁၅ | | |
| ၆ | အဆိုပြုချက်ပြန်လည်ပေးပို့ခြင်း | ၂၉-၅-၂၀၁၅ | | |
| ၇ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြင်ဆင် တင်ပြခြင်း | ၂၄-၉-၂၀၁၅ | | |
| ၈ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြန်လည် ပြင်ဆင်၍ အဆိုပြုလွှာ (၇)စုံ ပေးပို့ခြင်း | ၃၀-၉-၂၀၁၅ | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **(၂၃၈)ရက်** | | |

- ရှမ်းပြည်နယ်အစိုးရအဖွဲ့၏ သဘောထားမှတ်ချက်မှာ ၁၁-၉-၂၀၁၅ ရက်နေ့မှ ရရှိသည့် အတွက် ရက်ပေါင်း (၂၃၈) ရက်ကြာမြင့်ရခြင်း ဖြစ်ပါသည်။

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | မြန်မာရွှေရောကုမ္ပဏီလီမိတက် |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - | မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | စိုက်ပျိုးရေးသုံးဓာတ်မြေသြဇာ ထုတ်လုပ်ဖြန့်ဖြူးရောင်း ချခြင်းလုပ်ငန်း |
| တည်နေရာ | - | မြေကွက်အမှတ် (၄၊ ၅၊ ၆၊ ၇၊ ၈ ၊ ၉၊ ၁၀၊ ၁၁၊ ၁၂၊ ၁၃၊ ၁၄၊ ၁၅၊ ၁၆၊ ၁၇၊ ၁၈၊ ၁၉)၊ ကွင်းအမှတ်-စက်မှုရပ်၊ ကောင်းမူးတုံရပ်ကွက်၊ မူဆယ်မြို့နယ်၊ မူဆယ်ခရိုင်၊ ရှမ်းပြည်နယ်မြောက်ပိုင်း |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | ကျပ် ၈၈၁.၂၄၉ သန်း |
| ရောင်းချမည့်စနစ် | - | ၁၀၀% ပြည်တွင်းရောင်း |
| လုပ်ငန်းသက်တမ်း | - | ၁၅ နှစ် |
| အရင်းကြေကာလ | - | ၄ နှစ် ၁ လ |
| IRR | - | ၂၁.၁၉% |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ | ကျပ် ၁.၅၄၈ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၁၆၅ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | - | ကျပ် ၆.၈၅ သန်း |
| ၄ | ဝင်ငွေခွန် | ကျပ် ၂၃၆.၄၆၀ သန်း | ကျပ် ၄၃၄.၅၄၄ သန်း |
| ၅ | လျှပ်စစ်မီးသုံးစွဲခ | | ကျပ် ၇၂၄.၂၀၄ သန်း |
| ၆ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေကျပ်သိန်း နှစ်ဆယ်ထက်ကျော်ပါက အခွန်ပေး ဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုချက်တင်ပြထားပါသည်။ |
| ၇ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၁၉၇ ဦး<br>ပြည်ပ ၃ ဦး<br>ပြည်တွင်း လုပ်သား (၁၉၇) ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုး တိုးတက်မှုကို အထောက်အကူပြုစေပါသည်။ |
| ၈ | | | အလုပ်အကိုင် အခွင့်အလမ်းများပိုမိုရရှိစေပြီး ဆင်းရဲနွမ်းပါးမှု လျှော့ချရေးကို အထောက် အကူ ပြုစေနိုင်ပါသည်။ |
| | | **ကျပ် ၂၃၈.၀၀၈ သန်း** | **ကျပ် ၁၁၆၆.၇၆၈ သန်း** |
| | Cost : Benefit | ၁ : ၅ | |

အကြောင်းအရာ။ မြန်မာရွှေဧရာ ကုမ္ပဏီ လီမိတက် မှ စိုက်ပျိုးရေးသုံး ဓါတ်မြေသြဇာ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - မြန်မာရွှေဧရာကုမ္ပဏီလီမိတက် |
| | လုပ်ငန်းအဆိုပြုသူအမည် | - ဦးအောင်ဝင်း (အဘ-ဦးစောချိမ်) |
| | လုပ်ငန်းအမျိုးအစား | - စိုက်ပျိုးရေးသုံး ဓါတ်မြေသြဇာ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ် (၄၊ ၅၊ ၆၊ ၇၊ ၈ ၊ ၉၊ ၁၀၊ ၁၁၊ ၁၂၊ ၁၃၊ ၁၄၊ ၁၅၊ ၁၆၊၁၇၊၁၈၊၁၉)၊ ကွင်းအမှတ်-စက်မှုရပ်၊ ကောင်းမှုးတုံရပ်ကွက်၊ မူဆယ်မြို့နယ်၊ မူဆယ်ခရိုင်၊ ရှမ်းပြည်နယ်မြောက်ပိုင်း |
| | မြေပိုင်ရှင် | - ဦးလောက်ထယ် (ခ) ကျန်ချီဌေ့ |
| | မြေအကျယ်အဝန်း | - ၃.၆၇၃ ဧက (၁၄,၈၆၄.၁၁၆ စတုရန်းမီတာ) |
| | အဆောက်အဦအကျယ်အဝန်း | - (၃၈ x ၁၈) မီတာ တစ်ထပ်ဂိုဒေါင် အဆောက်အဦ ၁ လုံး<br>- (၉၀ x ၁၂) မီတာ တစ်ထပ်ထုပ်ပိုးဌာန အဆောက်အဦ ၁ လုံး<br>- (၇ x ၃.၅) မီတာ သန့်စင်ခန်း အဆောက်အဦ ၁ လုံး<br>- (၃၀ x ၇) မီတာ တစ်ထပ် ထမင်းစားဆောင် အဆောက်အဦ ၁ လုံး<br>- (၃၀ x ၉) မီတာ တစ်ထပ် ဝန်ထမ်းအိမ်ယာ ၁ လုံး<br>- (၇၈ x ၁၆) မီတာ တစ်ထပ် ဂိုဒေါင် အဆောက်အဦ ၁ လုံး<br>- ( ၈ x ၆ ) မီတာ တစ်ထပ် ဓာတ်ခွဲခန်း ၁ လုံး |
| | မြေနှင့်အဆောက်အဦငှားရမ်းကာလ | - ကနဦး ၁၅နှစ် (နောက်ထပ် ၁၅ နှစ် ၂ကြိမ်) |
| ၃။ | နှစ်စဉ်မြေနှင့် အဆောက်အဦ ငှားရမ်းခ | - ကျပ် ၄၀ သိန်း<br>- (၁)နှစ် တစ်စတုရန်းမီတာလျှင် ကျပ် ၂,၆၉၁ နှုန်း |
| ၄။ | လုပ်ငန်းသက်တမ်း | - အနည်းဆုံး ၁၅ နှစ်ခန့် လုပ်ကိုင်မည်ဖြစ်ပါသည်။ |
| | တည်ဆောက်ရေးကာလ | - ၆ လ |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၈၁၁.၂၄၉ သန်း |
| | ထည့်ဝင်သည့်အမျိုးအစား | - ကျပ် (သန်း) |
| | ငွေသား | ၂၀၀.၀၀၀ |
| | အဆောက်အဦ | ၂၈၀.၀၀၀ |
| | ပရိဘောဂ | ၈.၈၀၀ |
| | စက်ပစ္စည်း၊ စက်ကိရိယာများ(ပြည်တွင်း) | ၁၃၇.၀၀၀ |
| | ကနဦးကုန်ကြမ်း | ၁၈၅.၄၄၉ |
| | **စုစုပေါင်း** | **၈၁၁.၂၄၉** |

| | | |
|---|---|---|
| ၆။ | ဝန်ထမ်းအင်အား (ပထမနှစ်) | - **၂၀၀ ဦး** |
| | ပြည်တွင်း | - ၁၉၇ ဦး (ပြည်တွင်း အနိမ့်ဆုံးဝန်ထမ်းတစ်ဦး၏ လစာ ကျပ် ၁၀၀,၀၀၀ နှင့် အမြင့်ဆုံးဝန်ထမ်းတစ်ဦး ၏ လစာ ကျပ် ၄၀၀,၀၀၀) |
| | ပြည်ပ | ၃ ဦး (ပြည်ပ ဝန်ထမ်းတစ်ဦး၏ လစာ ကျပ် ၆၀၀,၀၀၀ ) |
| ၇။ | ရောင်းချမည့်စနစ် | - ၁၀၀% ပြည်တွင်း |
| ၈။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဋ္ဌမနှစ် ) | - ကျပ် ၁၃.၈၆၃ သန်း |
| | ကုမ္ပဏီ၏ အသုံးစရိတ် (ဆဋ္ဌမနှစ် ) | - ကျပ် ၁၃.၆၇၇ သန်း |
| | ကုမ္ပဏီ၏ အသားတင်အမြတ် (ဆဋ္ဌမနှစ်) | - ကျပ် ၀.၁၈၆ သန်း |
| ၉။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (ဆဋ္ဌမနှစ်) | |
| | ဝင်ငွေခွန် | - ကျပ် ၆၂,၀၇၇.၈၀ |
| | အရင်းကြေကာလ | - ၄ နှစ် ၁ လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၂၁.၁၉% |
| ၁၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၆၃၀ KVA |
| ၁၁။ | CSR | - Corporate Social Responsibility (CSR) အဖြစ်နှစ်စဉ် ရရှိသောအသားတင်အမြတ်ငွေမှ ၂% ကိုသုံးစွဲမည်ဖြစ်ကြောင်း တို့ကို တင်ပြထားပါသည်။ |
| ၁၂။ | မီးဘေးကာကွယ်ရေးစီမံချက် | - စက်ရုံ၏ပတ်လည် ၁၅ ပေလျှောင် ၁ လက်မ၊ ရေပိုက်ခေါင်း (၁)ခု နှင့် ပိုက်ပျော့ (၅၀)ပေ (၁)ခုစီ ထားရှိခြင်း၊ မီးသတ်ဆေးဗူး (၅၀) ကို စက်ရုံအတွင်း နံရံများတွင် ချိတ်ဆွဲထားရှိခြင်း၊ ရေပုံး၊ မီးကပ်၊ သဲအိတ်များ အဆင်သင့်ထားရှိခြင်း၊ ရေလှောင်ကန်ငယ်တစ်ခု တည်ဆောက်ရန် စီစဉ်ထားခြင်း၊ ရေကန်ငယ်ကို အမြဲရေဖြည့်ထားရန်စီစဉ်ထားခြင်း၊ အမှိုက်နှင့်လောင်စာများကို ပုံမှန်ရှင်းလင်းခြင်း၊ အရေးပေါ်ထွက်ပေါက်များ စနစ်တကျ စီစဉ်ထားရှိခြင်း၊ ဝန်ထမ်းများကိုအရန် မီးသတ်သင်တန်းများ တက်ရောက်စေရန် စီစဉ်ထားခြင်း၊ စက်ရုံအတွင်း ဆေးလိပ်သောက်ခြင်းကို တင်းကြပ်စွာတားမြစ်ခြင်း၊ လျှပ်စစ်နှင့် ပတ်သက်သည့် အန္တရာယ်များမဖြစ်ပေါ်အောင်လည်းဆောင်ရွက်ထားရှိကြောင်း တင်ပြထားပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၃/ မ-၁၁၆၃/ ၂၀၁၅(၁၃၅၈.ဃ)

ရက်စွဲ၊ ၂၀၁၅ ခုနှစ် အောက်တိုဘာလ ၄ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြသည့် အမှာစာ

အကြောင်းအရာ။ **မြန်မာရွှေဇရာကုမ္ပဏီလီမိတက်မှ စိုက်ပျိုးရေးသုံးဓါတ်မြေဩဇာ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ**

၁။ မြန်မာရွှေဇရာကုမ္ပဏီလီမိတက် သည် မြေကွက်အမှတ်-၄၊ ၅၊ ၆၊ ၇၊ ၈၊ ၉၊ ၁၀၊ ၁၁၊ ၁၂၊ ၁၃၊ ၁၄၊ ၁၅၊ ၁၆၊ ၁၇၊ ၁၈၊ ၁၉၊ ကွင်းအမှတ်-စက်မှုရပ်၊ ကောင်းမူးတုံရပ်ကွက်၊ မူဆယ်မြို့နယ်၊ မူဆယ်ခရိုင်၊ ရှမ်းပြည်နယ်မြောက်ပိုင်းရှိ မြေဧရိယာ ၃.၆၇၃ ဧက (၁၄,၈၆၄.၁၁၆ စတုရန်းမီတာ) တွင် စိုက်ပျိုးရေး သုံးဓါတ်မြေဩဇာ ထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးအောင်ဝင်း (အဘ-ဦးစောချိမ်) မှ မြန်မာနိုင်ငံရင်းနှီးမြှုပ် နှံမှုကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာ ၃.၆၇၃ ဧက (၁၄၈၆၄.၁၁၆၇၈ စတုရန်းမီတာ) ဖြစ်ပြီး ဂိုဒေါင်အဆောက်အဦ ၂ လုံး၊ ပါကင်ဌာန အဆောက်အဦ ၁လုံး၊ အိမ်သာ အဆောက်အဦ ၁လုံး၊ ထမင်းစားဆောင် အဆောက်အဦ ၁လုံး၊ ဝန်ထမ်း အဆောက်အဦ ၁လုံး နှင့် ဓာတ်ခွဲခန်း အဆောက်အဦ ၁လုံး စုစုပေါင်း(၇)လုံးအား ငှားရမ်းဆောင်ရွက်မည်ဖြစ်ပြီး ကုန်ကြမ်းဂိုဒေါင် ၁ လုံး၊ စက်ရုံ အဆောက်အဦ ၁ လုံးနှင့် ဘွိုင်လာ အဆောက်အဦ ၁ လုံး စုစုပေါင်း (၃)လုံးမှာ ကုမ္ပဏီမှ ပိုင်ဆိုင်ခြင်းဖြစ်ပါသည်။ နှစ်စဉ် မြေနှင့်အဆောက်အဦငှားရမ်းခမှာ ကျပ် ၄၀ သန်း ဖြစ်ပြီး တစ်နှစ် တစ်စတုရန်းမီတာလျှင် ကျပ် ၂,၆၉၀ နှုန်း ဖြစ်ပါသည်။ ရင်းနှီးမြှုပ်နှံမှု သက်တမ်းမှာ ကနဦး ၁၅ နှစ်နှင့် ၁၀ နှစ် ၂ ကြိမ် သက်တမ်းတိုးဖြစ်ပါသည်။

၃။ လုပ်ငန်း၏ရင်းနှီးမြှုပ်နှံမှုပမာဏမှာ စုစုပေါင်း ကျပ် ၈၁၁.၂၄၉ သန်း ဖြစ်ပြီး အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | ကျပ် (သန်း) |
|---|---|---|
| (က) | ငွေပမာဏ | ၂၀၀.၀၀၀ |
| (ခ) | အဆောက်အဦ | ၂၈၀.၀၀၀ |
| (ဂ) | ပရိဘောဂ | ၈.၈၀၀ |
| (ဃ) | စက်ပစ္စည်း၊ စက်ကိရိယာများ(ပြည်တွင်း) | ၁၃၇.၀၀၀ |

(င) ကနဦး ကုန်ကြမ်း ၁၈၅.၄၄၉

**စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ၈၁၁.၂၄၉**

၄။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းဝန်ထမ်း ၁၉၇ ဦး နှင့် ပြည်ပဝန်ထမ်း ၃ ဦး စုစုပေါင်း ၂၀၀ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်း အနိမ့်ဆုံးဝန်ထမ်း တစ်ဦး၏ လစာမှာ ကျပ် ၁၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၄၀၀,၀၀၀ နှင့် ပြည်ပ ဝန်ထမ်း တစ်ဦး၏ လစာမှာ ကျပ် ၆၀၀၀၀၀ ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိသော ဓာတ်မြေဩဇာများကို ပြည်တွင်းတွင် ၁၀၀% ရောင်းချမည် ဖြစ်ပါသည်။ ထုတ်လုပ်မှု အရေအတွက် (၆-နှစ်မြောက်)နှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါ အတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှုအရေအတွက် (Ton) | ရောင်းဈေးနှုန်း (Ton/ Kyats) |
|---|---|---|---|
| (က) | Compound Fertilizer 25% | ၂၇,၇၀၅.၇၀ | ၁၉၃,၇၂၅.၀၀ |
| (ခ) | Compound Fertilizer 30% | ၁၄,၁၀၄.၂၀ | ၂၁၅,၂၅၀.၀၀ |
| (ဂ) | Compound Fertilizer 45% | ၁၅,၃၀၅.၄၀ | ၃၅၆,၇၀၀.၀၀ |

၆။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ကုမ္ပဏီမှ ၆-နှစ်မြောက်တွင် ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | | ကျပ်(သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၁၃.၈၆၃ |
| (ခ) | အသုံးစရိတ် | ၁၃.၆၇၇ |
| (ဂ) | အသားတင်အမြတ် | ၀.၁၈၆ |

၇။ နိုင်ငံတော်မှ ၆-နှစ်မြောက်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၆၂,၀၇၇.၈၀ ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ အရင်းကြေ ကာလမှာ ၄ နှစ် ၁ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR)မှာ ၂၀.၁၉ % ဖြစ်ပါသည်။

၈။ အဆိုပြုချက်နှင့် စပ်လျဉ်း၍ ရှမ်းပြည်နယ် အစိုးရအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနနှင့် စက်မှုဝန်ကြီး ဌာနများသို့ သဘောထားမှတ်ချက်များ တောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထားပြန်ကြား လာပါသည်-

(က) **ရှမ်းပြည်နယ်အစိုးရအဖွဲ့**မှ ရင်းနှီးမြှုပ်နှံမှု ကိစ္စနှင့်ပတ်သက်၍ (၁၈-၅-၂၀၁၅) ရက်နေ့တွင် ကျင်းပပြုလုပ်သော ရှမ်းပြည်နယ် အစိုးရအဖွဲ့ ပြည်နယ်ဝန်ကြီးများ လုပ်ငန်းညှိနှိုင်းအစည်းအဝေးအမှတ်စဉ် (၂-၅/၂၀၁၅) ဆုံးဖြတ်ချက်အပိုဒ် ၅(ဒ)

အရ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက်ကို ၁၁-၉-၂၀၁၅ ရက်စွဲဖြင့် ပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ-က)**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါ အချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက်ပြန်ကြားထားပါသည်-

(၁) အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်းများ ရေးဆွဲချမှတ်ခြင်း၊ လုပ်ငန်းလည်ပတ်ခြင်းနှင့် ထုတ်လုပ်ခြင်းအဆင့်ဆင့်တို့အတွက် စီမံကိန်းဆိုင်ရာအချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းလမ်းနှင့် အစီအမံများ ထည့်သွင်းဆောင်ရွက်ရန်။

(၂) အဆိုပြု လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) အနည်းဆုံးဖြစ်စေရေးတို့ အတွက် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) အစီရင်ခံစာ တင်ပြရန်။

(၃) အဆိုပါ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကိုထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် ထုတ်လုပ်မှုနည်းပညာများ၊ လုပ်ငန်းအစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan - EMP) ရေးဆွဲတင်ပြရန်နှင့် ၎င်းအစီအစဉ်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၄) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်း စည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံးအကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၅) သက်ဆိုင်ရာပြည်နယ် အစိုးရအဖွဲ့နှင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန် သဘောထားပြန်ကြားထားပါသည်။ **ကုမ္ပဏီမှ သဘောထားမှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်ရေးဆွဲတင်ပြမည်ဖြစ်ကြောင်း ဝန်ခံကတိတင်ပြထားပါသည်။(နောက်ဆက်တွဲ - ခ)**

(ဂ) **စက်မှုဝန်ကြီးဌာန** မှ စိုက်ပျိုးရေးဦးစီးဌာန၏ မြေသြဇာဖြန့်ဖြူး ရောင်းချခွင့်လိုင်စင်နှင့် မြေသြဇာ ကော်မတီ၏ မြေသြဇာထုတ်လုပ်ခွင့် မှတ်ပုံတင်လက်မှတ်တို့ရရှိရန်လိုအပ်ကြောင်း သဘောထားမှတ်ချက် ပြန်ကြားလာခြင်းအပေါ် **ကုမ္ပဏီမှ လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြထားပါသည်။ (နောက်ဆက်တွဲ-ဂ)**

(ဃ) **လယ်ယာစိုက်ပျိုးရေး နှင့် ဆည်မြောင်းဝန်ကြီးဌာနမှ** မြန်မာရွှေဧရာ ကုမ္ပဏီလီမိတက်သည် မြန်မာနိုင်ငံအတွင်း စိုက်ပျိုးရေးသုံး ဓာတ်မြေသြဇာများ ထုတ်လုပ်မှုလုပ်ငန်းများ ဆောင်ရွက်မည်ဖြစ်ပြီး အရည်အသွေးပြည့်မီသော ဓာတ်မြေသြဇာများကို ဖြန့်ဖြူးရောင်းချရန် ဆောင်ရွက်မည့် ကုမ္ပဏီတစ်ခုဖြစ်သည့် အတွက် သီးနှံစိုက်ပျိုးထုတ်လုပ်မှုတွင် အထောက်အကူပြု လုပ်ငန်းဖြစ်၍ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်းနှင့် အဆိုပြုတင်ပြသည့် မြေနေရာသည် လယ်ယာမြေအခြားနည်း အသုံးပြုခွင့်ကျပြီး စက်မှုရပ်ကွက်အဖြစ် ထူထောင်ထားရှိသည့် အစိုးရမှ စီမံခန့်ခွဲပိုင်ခွင့်ရှိသော မြေဖြစ်သည့်အတွက် မူလမြေပေးမိန့်ရရှိထားသူ ဦးလောထည် အနေဖြင့် မြေငှားဂရန် ရရှိရေး ဆက်လက်လျှောက်ထားသင့်ပါကြောင်း သဘောထားပြန်ကြားထားပါသည်။ **(မြေပိုင်ရှင်မှ မြေငှားဂရန်ရရှိရေး ဆောင်ရွက်နေပါကြောင်း တင်ပြထားပါသည်။) (နောက်ဆက်တွဲ-ဃ)**

၉။ မြန်မာရွှေဧရာကုမ္ပဏီလီမိတက်သည် ၅-၂-၂၀၁၃ ရက်နေ့တွင် ဖွဲ့စည်းတည်ထောင်ထားသည့် ကုမ္ပဏီမှတ်ပုံတင် အထောက်အထားနှင့် ငွေရေးကြေးရေး အထောက်အထားအဖြစ် Myanma Apex Bank တွင် ၂၇-၁-၂၀၁၅ ရက်နေ့၌ ကျပ် ၂၅၀,၀၀၀,၀၀၅.၀၀ ရှိကြောင်း တင်ပြထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင်ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပြီး နိုင်ငံခြားမှမည်သူမျှ ပိုင်ဆိုင်မှုမရှိပါကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ပါကြောင်း၊ ဓါတ်မြေသြဇာများကို ပြည်တွင်းတွင်ရောင်းချမည်ဖြစ်ပါကြောင်း၊ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များကို လိုက်နာ ဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်း ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ မီးဘေး ကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ပါကြောင်း နှင့် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ နည်းဥပဒေ၊ စည်းမျဉ်း၊ စည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရန် အကောင်အထည်ဖော် ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/ တိုင်းဒေသကြီးရ စက်မှုကြီးကြပ်ရေးနှင့် လုပ်ငန်းစစ်ဆေးမှု ညွှန်ကြားရေးဦးစီးဌာနတို့တွင် မှတ်ပုံတင်ထားရှိမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုချက်များအား တင်ပြထားပါသည်။

၁၁။ ကုမ္ပဏီမှ နိုင်ငံတကာအဆင့်မီ ဓာတ်မြေဩဇာစက်ရုံတည်ဆောက်ပြီး တစ်နေ့လျှင် တန် (၁၅၀)ကျ ထုတ်လုပ်မည်ဖြစ်ပြီး မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကိုလျှောက်ထားလာပါသည်။ ဝန်ထမ်းများ၏ အခြေခံလစာငွေကိုအနိမ့်ဆုံးလုပ်ခ သတ်မှတ်ချက်ပေါ်လာပါက လုပ်ခလစာများကို ပေးဆောင်သွားမည်ဖြစ်ပါကြောင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်းမှုအတွက် အစီအစဉ်များဆောင်ရွက်ထားရှိပါကြောင်း၊ ဝင်ငွေခွန်ပေးဆောင်ခြင်းနှင့် ပတ်သက်၍ ဝန်ထမ်းများ၏ လစာငွေ တစ်နှစ်လျှင် ဝင်ငွေကျပ် သိန်း ၂၀ ထက်ကျော်လွန်ပါက ဝင်ငွေခွန်ကို သတ်မှတ်ထားသည့် နှုန်းများအတိုင်း ပေးဆောင်ရမည်ဖြစ်ကြောင်း၊ ဝန်ထမ်းများသက်သာ ချောင်ချိရေးနှင့် သာယာပျော်ရွှင်ရေး အစီအမံများအား တင်ပြထားပါသည်။

၁၂။ **မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်** အနေဖြင့် ကုမ္ပဏီမှ စက်ရုံ၏ ပတ်လည် ၁၅ ပေလျှင် ၁ လက်မ ၊ ရေပိုက်ခေါင်း (၁)ခုနှင့် ပိုက်ပျော့ (၅၀)ပေ (၁)ခုစီ ထားရှိခြင်း၊ မီးသတ်ဆေးဗူး (၅၀)ကို စက်ရုံအတွင်း နံရံများတွင် ချိတ်ဆွဲထားရှိခြင်း၊ ရေပုံး၊ မီးကပ်၊ သဲအိတ်များ အဆင်သင့်ထားရှိခြင်း၊ ရေလှောင်ကန်ငယ် တစ်ခုတည်ဆောက်ရန် စီစဉ်ထားခြင်း၊ ရေကန်ငယ်ကို အမြဲရေဖြည့်ထားရန်စီစဉ်ထားခြင်း၊ အမှိုက်နှင့်လောင်စာများကို ပုံမှန်ရှင်းလင်းခြင်း၊ အရေးပေါ် ထွက်ပေါက်များစနစ်တကျစီစဉ်ထားရှိခြင်း၊ ဝန်ထမ်းများကို အရန်မီးသတ် သင်တန်းများ တက်ရောက်စေရန် စီစဉ်ထားခြင်း၊ စက်ရုံအတွင်း ဆေးလိပ်သောက်ခြင်းကို တင်းကြပ်စွာ တားမြစ်ထားခြင်း၊ လျှပ်စစ်နှင့် ပတ်သက်သည့် အန္တရာယ်များ မဖြစ်ပေါ်အောင်လည်း ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၃။ မြန်မာရွှေရောင်ကုမ္ပဏီလီမိတက်မှ မြန်မာနိုင်ငံရှိ လူ့အဖွဲ့အစည်းများ၏ လူမှုရေးလှုပ်ရှားဆောင်ရွက်မှုများအတွက် နှစ်စဉ် အသားတင် အမြတ်ငွေ၏ ၂% အား CSR ရန်ပုံငွေအဖြစ် ထားရှိသုံးစွဲမည်ဖြစ်ကြောင်းနှင့် လုပ်ငန်းဆောင်ရွက်ရာတွင် လျှပ်စစ်ဓါတ်အားကို နိုင်ငံပိုင်လျှပ်စစ်ဓာတ်အားလိုင်းမှ သုံးစွဲမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၁၄။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် မတ်လ ၃ ရက်နေ့တွင် ကျင်းပသော (၉/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၅။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း ၁၁၊ ပုဒ်မ ၂၀ (က၊ ဂ၊ ဃ၊ စ၊ ဆ၊ ဇ၊ ဈ၊ ည၊ ဋ) တို့အရ အခွန်ကင်းလွတ်ခွင့်(သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၆။ (က) ထုတ်လုပ်ပြီးဓာတ်မြေဩဇာများကို မြန်မာနိုင်ငံတွင် မှတ်ပုံတင်အသုံးပြုခွင့် ရရှိထားသော ရွှေမြင်း၊ မျှားကမ္ဘာ၊ မြင်းခေါင်း၊ သံကွင်း စသည့်တံဆိပ်များကို အသုံးပြုမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

(ခ) ၂၀၁၄ ခုနှစ် ပြည်ထောင်စု၏ အခွန်ကောက် ဥပဒေပြဋ္ဌာန်းချက် အခန်း(၅)၊ အပိုဒ် ၁၈ တွင် ပြည်တွင်း၌ထုတ်လုပ်ရောင်းချခြင်းနှင့် ပြည်တွင်း၌ ဝယ်ယူရောင်းချသည့် ကုန်သွယ်လုပ်ငန်း ဖြစ်ပါက ရောင်းရငွေအပေါ်တွင် ကုန်သွယ်လုပ်ငန်းခွန် မကျသင့်စေရဟု ဖော်ပြထားသည့် လုပ်ငန်းအမျိုးအစားများတွင် ဓာတ်မြေသြဇာ၊ ပိုးသတ်ဆေးနှင့် ပေါင်းသတ်ဆေးများပါ ဝင်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ မြန်မာရွှေရောကုမ္ပဏီလီမိတက်သည် ကွင်းအမှတ်-စက်မှုရပ်၊ ကောင်းမူးတုံရပ်ကွက်၊ မူဆယ်မြို့နယ်၊ မူဆယ်ခရိုင်၊ ရှမ်းပြည်နယ် မြောက်ပိုင်းတွင် စိုက်ပျိုးရေးသုံး ဓါတ်မြေသြဇာ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် သဘော တူ-မတူ။

ဥက္ကဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူ

ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ပြည်နယ်အစိုးရအဖွဲ့

ရှမ်းပြည်နယ်

ရုံးတံဆိပ်

စာအမှတ်၊ ၁၁၃၃၉/ ၂ - ၅ / ၁၅ / အစရ(ရှမ်း)

ရက် စွဲ၊ ၂၀၁၅ခုနှစ်၊ စက်တင်ဘာလ ၁၁ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံလာခြင်းကိစ္စ**

ရည်ညွှန်းချက် ။
(၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၉-၃-၂၀၁၅)ရက်စွဲပါစာအမှတ်၊ရက-၃/မ-၁၁၆၃/၂၀၁၅(၃၆၂)
(၂) ခရိုင်စီမံခန့်ခွဲမှုကော်မတီ၊ မူဆယ်မြို့၏ (၂၇-၄-၂၀၁၅)ရက်စွဲပါစာအမှတ်၊ ၅/၃-၂/ဦး ၆ (၀၄၇)

၁။ မူဆယ်ခရိုင်၊ မူဆယ်မြို့နယ်၊ ကောင်းမှုတုံရပ်ကွက်၊ ကွင်းအမည်(စက်မှုရပ်)၊ မြေကွက်အမှတ် (၄၊၅၊ ၆၊၇၊၈၊၉၊၁၀၊၁၁၊၁၂၊၁၃၊၁၄၊၁၅၊၁၆၊၁၇၊၁၈၊၁၉)၊ မြေဧရိယာ(၃.၆၇၃)ဧကတွင် စိုက်ပျိုးရေးသုံးဓါတ်မြေဩဇာ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဦးအောင်ဝင်းမှ အဆိုပြုတင်ပြလာမှုအပေါ် ရှမ်းပြည်နယ်အစိုးရအဖွဲ့၏ သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်း(၁)ပါစာဖြင့် ညှိနှိုင်းလာခြင်းနှင့်ပတ်သက်၍ ခရိုင်စီမံခန့်ခွဲမှုကော်မတီ၊ မူဆယ်မြို့မှ ရည်ညွှန်း(၂)ပါစာဖြင့် စိစစ်တင်ပြလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍(၁၈-၅-၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရှမ်းပြည်နယ်အစိုးရအဖွဲ့ ပြည်နယ်ဝန်ကြီးများ လုပ်ငန်းညှိနှိုင်း အစည်းအဝေးအမှတ်စဉ်(၂- ၅/၂၀၁၅) ဆုံးဖြတ်ချက်အပိုဒ် ၅(ဒ) အရ ရှမ်းပြည်နယ်အစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက် ပေးပို့အပ်ပါသည်။

စဝ်အောင်မြတ်
ပြည်နယ်ဝန်ကြီးချုပ်

မိတ္တူကို

လက်ခံစာတွဲ / မျှောစာတွဲ

DG 23/26/3/15

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

NPT-1975 25.3.15
M-601 26/3/15

စာအမှတ် ၂/၂၂၀(ခ)(၄)( ၂၁၉၅ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ် ၊ မတ်လ ၂၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ မြန်မာရွှေရောကုမ္ပဏီလီမိတက်မှစိုက်ပျိုးရေးသုံးခဲတ်မြေသြဇာ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၉ - ၃ -၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက-၃/မ-၁၁၆၃/၂၀၁၅(၃၆၃)

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ မြန်မာရွှေရောကုမ္ပဏီလီမိတက်သည် မြေကွက်အမှတ် ( ၄၊၅၊၆၊၇၊၈၊၉၊၁၀၊၁၁၊၁၂၊၁၃၊၁၄၊၁၅၊၁၆၊၁၇၊၁၈၊၁၉ ) ကွင်းအမှတ်-စက်မှုရပ်၊ ကောင်းမှုတုံရပ်ကွက် ၊ မူဆယ်မြို့နယ် ၊ မူဆယ်ခရိုင်၊ ရှမ်းပြည်နယ် မြောက်ပိုင်းရှိ မြေဧရိယာ ( ၃.၆၇၃ )ဧကတွင် စိုက်ပျိုးရေးသုံး ခဲတ်မြေသြဇာ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့် ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ ပူးတွဲပေးပို့လာသည့် အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ ( ၁၅ ) နှစ်ဖြစ်၍ ပြုပြင်တည်ဆောက်ရေးလုပ်ငန်းမှာ (၆)လ ကြာမြင့်မည်ဖြစ်ပါကြောင်း ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဥပဒေများ၊ သတ်မှတ်ချက်များအား လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ ထို့အပြင် စက်ရုံမှ ထွက်ရှိလာမည့် အမှုန်အမွှားများ နှင့် ကျောက်မီးသွေးမှ ထွက်ရှိသော မီးခိုးများကို ဖယ်ရှားသန့်စင်ရန် စက်ရုံမှအမှုန်အမွှားများကို တားဆီးဖယ်ရှားသည့် စနစ်ကို အသုံးပြုထားသော သန့်စင်ခန်း(၂) ခန်းထားရှိသွားမည်ဖြစ်ပြီး ၎င်းအမှုန်အမွှားများကို ရေမှုန်များ Spirng စနစ်ဖြင့် ထပ်မံသန့်စင်ပြီး ရေစည်ကန်သို့ နောက်တစ်ကြိမ် ဖြတ်ကူးသန့်စင်စနစ်များပါရှိမည်ဖြစ်ကြောင်း ၊ မီးဘေးအန္တရာယ် ကာကွယ်ရေး အစီအမံများလည်း ဆောင်ရွက်ထားကြောင်း၊ လူမှုရေးဆိုင်ရာတာဝန်ခံမှု နှင့် သက်ဆိုင်သည့် လုပ်ငန်းများအတွက် ရရှိလာသော အသားတင်အမြတ်ငွေ၏ ၂% အား အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။

၃။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် Ammonia Chloride၊ Ammonia Sulphate စသော ကုန်ကြမ်းပစ္စည်းများ အသုံးပြုမည်ဖြစ်ပါသောကြောင့် ၎င်းတို့မှထွက်ရှိလာမည့် အမှုန် အမွှားများ ၊ အနံ့အသက်များ၊ စွန့်ပစ်ရေများ နှင့် အခြားစွန့်ပစ်ပစ္စည်းများသည် ပတ်ဝန်းကျင်ရှိ မြေထု ၊ ရေထု နှင့် လေထုတို့အား ညစ်ညမ်းမှုများဖြစ်ပေါ်စေနိုင်ပြီး လုပ်ငန်းအဆင့်ဆင့်တွင် စက်များ အသုံးပြု၍ ဆောင်ရွက်မည် ဖြစ်ပါသဖြင့် အသံဆူညံခြင်းစသော ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ မြန်မာရွှေဧရာကုမ္ပဏီမှ စိုက်ပျိုးရေးသုံး ဓါတ်မြေဩဇာ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်အား အောက်ပါအတိုင်း ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်းများ ရေးဆွဲချမှတ်ခြင်း ၊ လုပ်ငန်းလည်ပတ်ခြင်း နှင့် ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့ အတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် နည်းလမ်း နှင့် အစီအမံများ ထည့်သွင်းဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) အနည်းဆုံးဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment) အစီရင်ခံစာတင်ပြရန်၊

(ဂ) အဆိုပါလေ့လာဆန်းစစ်မှုရလဒ်များကိုအခြေခံ၍ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ကို ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် ထုတ်လုပ်မှုနည်းပညာများ၊ လုပ်ငန်းအစီအစဉ် ၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည့်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲ တင်ပြရန် နှင့် ၎င်းအစီအစဉ်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ ၊ နည်းဥပဒေ ၊ လုပ်ထုံး လုပ်နည်း ၊ စည်းမျဉ်း စည်းကမ်းများ နှင့် အညီ လိုက်နာ ကျင့်သုံး အကောင် အထည်ဖော် ဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာပြည်နယ်အစိုးရအဖွဲ့ နှင့် ဒေသခံပြည်သူများ၏ ဆန္ဒ နှင့် သဘောထားများ ရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(မျိုးညွန့်၊ ရုံး အ ဖွဲ့ မှူး)

မိတ္တူ -ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
**စက်မှုဝန်ကြီးဌာန**

MPI-2007
26.3.15

စာအမှတ်၊၂၁-စမ (၂)၂၀၁၄-၂၀၁၅(၅၈၀၅)
ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ မတ် လ ၂၅ ရက်

သို့

M-609
30/3/15

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၉.၃.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၃/ မ-၁၁၆၃/ ၂၀၁၅ (၃၆၄)

၁။ မြန်မာရွှေရောင်ကုမ္ပဏီလီမိတက်သည် နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရှမ်းပြည်နယ်မြောက်ပိုင်း၊ မူဆယ်ခရိုင်၊ မူဆယ်မြို့နယ်၊ ကောင်းမူးတုံရပ်ကွက်၊ ကွင်းအမှတ်-စက်မှုရပ်၊ မြေကွက်အမှတ်(၄)မှ (၁၉)အထိတွင် စိုက်ပျိုးရေးသုံး ဓါတ်မြေဩဇာထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ်သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် စိုက်ပျိုးရေးသုံး ဓါတ်မြေဩဇာထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုနှင့် ဘွိုင်လာအသုံးပြုမှုများကို လျှပ်စစ်ဥပဒေ၊ ဘွိုင်လာဥပဒေတို့နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင်ဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) စိုက်ပျိုးရေးဦးစီးဌာန၏ မြေဩဇာဖြန့်ဖြူးရောင်းချခွင့်လိုင်စင်နှင့် မြေဩဇာကော်မတီ၏ မြေဩဇာထုတ်လုပ်ခွင့်မှတ်ပုံတင်လက်မှတ်တို့ရရှိရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ မြန်မာရွှေဇရာကုမ္ပဏီလီမိတက်မှ စိုက်ပျိုးရေးသုံး ဓါတ်မြေသြဇာထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း ဆောင်ရွက်ရာတွင် အထက်ပါ လိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှု လုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၂၅.၃.၁၅

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ရုံးအဖွဲ့မှူး)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

စာအမှတ်၊၁၁/ မြန်မာရွှေဇရာ( ၁၃၇ /၂၀၁၅)
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဧပြီလ ၉ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၉.၃.၂၀၁၅) ရက်စွဲပါစာအမှတ်၊ ရက-၃/မ-၁၁၆၃/၂၀၁၅ (၃၆၅)

၁။ မြန်မာရွှေဇရာကုမ္ပဏီလီမိတက်သည်မြေကွက်အမှတ် ၄၊၅၊၆၊၇၊၈၊၉၊၁၀၊၁၁၊၁၂၊၁၃၊ ၁၄၊၁၅၊ ၁၆၊၁၇၊၁၈၊၁၉၊ ကွင်းအမှတ်- စက်မှုရပ်၊ ကောင်းမူးတုံရပ်ကွက်၊ မူဆယ်မြို့နယ်၊ မူဆယ်ခရိုင်၊ ရှမ်းပြည်နယ်မြောက်ပိုင်းရှိမြေဧရိယာ (၃.၆၇၃)ဧကတွင်စိုက်ပျိုးရေးသုံး ဓါတ်မြေသြဇာထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကိုမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာသည့်ကိစ္စ နှင့်စပ်လျဉ်း၍ လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၏သဘောထားမှတ်ချက်အားပြန်ကြားပေးပါရန် မေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ မြန်မာရွှေဇရာကုမ္ပဏီလီမိတက်သည် မြန်မာနိုင်ငံအတွင်းစိုက် ပျိုးရေးသုံး ဓါတ်မြေသြဇာများ ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်မည်ဖြစ်ပြီး အရည်အသွေးပြည့်မီ သောဓါတ်မြေသြဇာများကို ဖြန့်ဖြူးရောင်းချရန် ဆောင်ရွက်မည့်ကုမ္ပဏီတစ်ခုဖြစ်သည့်အတွက် သီးနှံစိုက်ပျိုး ထုတ်လုပ်မှုတွင် အထောက်အကူပြု လုပ်ငန်းဖြစ်၍ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်းနှင့် အဆိုပြုတင်ပြသည့် မြေနေရာ သည် လယ်ယာမြေအခြားနည်း အသုံးပြုခွင့်ကျပြီး စက်မှုရပ်ကွက်အဖြစ် ထူထောင်ထားရှိသည့် အစိုးရမှ စီမံခန့်ခွဲပိုင်ခွင့်ရှိသော မြေဖြစ်သည့်အတွက် မူလမြေပေးမိန့်ရရှိထားသူ ဦးလောထည် အနေဖြင့် မြေငှားဂရန်ရရှိရေး ဆက်လက်လျှောက်ထားသင့်ပါကြောင်း ပြန်ကြားအပ်ပါသည်။

ဒုတိယဝန်ကြီး(ကိုယ်စား)
(သက်နိုင်ဦး၊ရုံးအဖွဲ့မှူး)

မိတ္တူ၊

- ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

- ညွှန်ကြားရေးမှူးချုပ်၊ စိုက်ပျိုးရေးဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ကြေးတိုင်နှင့်မြေစာရင်းဦးစီးဌာန
- ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန်

ရင်းနှီးမြှုပ်နှံလိုသူ၏ဆောင်ရွက်ရန်

အဆိုပြုချက်

# မြန်မာရွှေဧရာကုမ္ပဏီလီမိတက်

PROPOSAL OF THE INVESTOR TO MAKE

MYANMAR CITIZENS INVESTMENT IN THE

REPUBLIC OF THE UNION OF MYANMAR

**MYANMAR SHWE AYEYAR CO., LTD**

# "မာတိကာ"

# MYANMAR SHWE AYEYAR COMPANY LIMITED

NO.(KA/8). PYI HTAUNG SU ROAD.KAUNG MUE TONE WARD ,MUSE TOWNSHIP
NORTHERN SHAN STATE, Ph- 082-51720, 09-256498022

---

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

နေ့စွဲ။ ။၂၀၁၅ ခုနှစ်၊ ဇန်နဝါရီ လ၊ (၂၀)ရက်။

အကြောင်းအရာ။ ။ <u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များပေးပို့ခြင်း။</u>

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ကျွန်တော်တို့ မြန်မာရွှေဧရာကုမ္ပဏီလီမိတက် သည် ရှမ်းပြည်နယ်မြောက်ပိုင်း၊ မူဆယ်ခရိုင်၊ မူဆယ်မြို့၊ ကောင်းမှုတုံရပ်ကွက်၊ စက်မှုရပ် မြေကွက်အမှတ်-(၄၊၅၊၆၊၇၊၈၊၉၊၁၀၊၁၁၊၁၂၊၁၃၊၁၄၊၁၅၊၁၆၊၁၇၊၁၈၊၁၉)၊ မြေဧရိယာ (၃.၆၇၃) ဧကရှိ မြေနေရာတွင် မြေနှင့် အဆောက်အဦးငှားရမ်းခြင်းနှင့် အဆောက်အဦးထပ်မံတည်ဆောက်ခြင်းများပြုလုပ်ပြီး နိုင်ငံတကာအဆင့်မီ ဓါတ်မြေသြဇာစက်ရုံတည်ဆောက်ပြီး တစ်နေ့လျှင်တန်(၁၅၀)ကျ စိုက်ပျိုးရေးသုံးဓါတ်မြေသြဇာထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီခွင့်ပြုမိန့်ထုတ်ပေးနိုင်ပါရန် လျှောက်ထားအပ်ပါသည်။

သို့ဖြစ်ပါ၍ ကျွန်တော်တို့ကုမ္ပဏီ၏အဆိုပြုလွှာကို လိုအပ်သလိုစိစစ်ပေးနိုင်ပါရန် လေးစားစွာဖြင့် ပေးပို့တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

ဦးအောင်ဝင်း
အုပ်ချုပ်မှုဒါရိုက်တာ
မြန်မာရွှေဧရာကုမ္ပဏီလီမိတက်

# MYANMAR SHWE AYEYAR COMPANY LIMITED

*NO.(KA/8). PYI HTAUNG SU ROAD.KAUNG MUE TONE WARD ,MUSE TOWNSHIP*
*NORTHERN SHAN STATE, Ph- 082-51720, 09-256498022*

---

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

နေ့စွဲ။ ။၂၀၁၅ ခုနှစ်၊ ဇန်နဝါရီ လ၊ (၃၀)ရက်။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၂၀ တို့အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များလျှောက်ထားခြင်း။

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ကျွန်တော်တို့ မြန်မာရွှေဧရာကုမ္ပဏီလီမိတက်သည် ရှမ်းပြည်နယ်မြောက်ပိုင်း၊ မူဆယ်ခရိုင်၊ မူဆယ်မြို့၊ ကောင်းမှုတုံရပ်ကွက်၊ စက်မှုရပ် မြေကွက်အမှတ်–(၄၊၅၊၆၊၇၊၈၊၉၊၁၀၊၁၁၊၁၂၊၁၃၊၁၄၊၁၅၊၁၆၊၁၇၊၁၈၊၁၉)၊ မြေဧရိယာ (၃.၆၇၃) ဧကရှိ မြေနေရာတွင် မြေနှင့်အဆောက်အဦးငှားရမ်းခြင်းနှင့် အဆောက်အဦးထပ်မံတည်ဆောက်ခြင်းများပြုလုပ်ပြီး နိုင်ငံတကာအဆင့်မီ ဓါတ်မြေသြဇာစက်ရုံတည်ဆောက်ပြီး တစ်နေ့လျှင်တန်(၁၅၀)ကျ စိုက်ပျိုးရေးသုံးဓါတ်မြေသြဇာထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အညီခွင့်ပြုမိန့်ထုတ်ပေးနိုင်ပါရန် လျှောက်ထားသည့် ကုမ္ပဏီဖြစ်ပါသည်။

ကျွန်တော်တို့ကုမ္ပဏီအနေဖြင့် ဓါတ်မြေသြဇာထုတ်လုပ်သည့်စက်ရုံလုပ်ငန်းလုပ်ကိုင်ရန်အတွက် စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ကျပ်(၈၁၁.၂၄၉)သန်းရင်းနှီးမြှုပ်နှံမည်ဖြစ်ပါသည်။ ထုတ်လုပ်ဖြန့်ဖြူးရောင်းချ၍ရရှိသောအမြတ်ငွေများကိုလည်း မြန်မာနိုင်ငံအတွင်းအခြားခွင့်ပြုထားသည့်စီးပွားရေးလုပ်ငန်းများတွင် ပြန်လည်ရင်းနှီးထားရန်ရည်ရွယ်ပါသည်။

ဓါတ်မြေသြဇာစက်ရုံမှထုတ်လုပ်ပြီးသောစိုက်ပျိုးရေးသုံးဓါတ်မြေသြဇာများကို ပြည်တွင်းတွင်ရောင်းချမည်ဖြစ်ပါသည်။ ပြည်တွင်းမှလုပ်သားများကို ဓါတ်မြေသြဇာထုတ်လုပ်သည့် ခေတ်မီအတတ်ပညာများသင်ကြားပေးခြင်းဖြင့် လုပ်သားများနည်းပညာတိုးတက်ရရှိခြင်းနှင့် အလုပ်အကိုင်အခွင့်အလမ်းများလည်းရရှိခြင်း၊ ပြည်ပမှတင်သွင်းမည့်ဓါတ်မြေသြဇာများထက် အရည်အသွေးပြည့်မီနိုင်ခြင်းနှင့် ဈေးနှုန်းချိုသာနိုင်ခြင်း စသည့်ရလဒ်ကောင်းများလည်း ရရှိနိုင်မည်ဖြစ်ပါသည်။

# MYANMAR SHWE AYEYAR COMPANY LIMITED

NO.(KA/8). PYI HTAUNG SU ROAD.KAUNG MUE TONE WARD ,MUSE TOWNSHIP
NORTHERN SHAN STATE, Ph- 082-51720, 09-256498022

---

သို့ဖြစ်ပါ၍ နိုင်ငံတော်အတွက်အခွန်ဘဏ္ဍာငွေများတိုးတက်ရရှိစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံသားများအတွက်အလုပ်အကိုင်အခွင့်အလမ်းများပိုမိုရရှိစေရန်အတွက်လည်းကောင်း၊ စက်မှုနည်းပညာရပ်များတိုးတက်လာစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံတော်စီးပွားရေးတိုးတက်စေရန် အတွက်လည်းကောင်း၊ ကျွန်တော်တို့ကုမ္ပဏီ၏ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဓါတ်မြေသြဇာထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းဆောင်ရွက်နိုင်ပါရန် ခွင့်ပြုမိန့်လျှောက်ထားခြင်းကို လက်ခံစဉ်းစားပေးပါရန်လျှောက်ထားအပ်ပါသည်။ထို့အပြင် ပြည်ထောင်စုမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀တို့အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုခံစားခွင့်ပြုပါရန် လေးစားစွာဖြင့်လျှောက်ထားအပ်ပါသည်။

အဆိုပါရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်မှုကော်မရှင်အနေဖြင့်ခွင့်ပြုမိန့်ထုတ်ပေးပါရန် ဤလျှောက်လွှာနှင့်အတူ အောက်ဖော်ပြပါအထောက်အထား၊ စာရွက်စာတမ်းများကို ပူးတွဲတင်ပြ အပ်ပါသည်။

(က) ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ကမကထပြုသူ၏ အဆိုပြုချက်၊

(ခ) ဘဏ္ဍာရေးအချက်အလက်နှင့်ပါတ်သက်၍တွက်ချက်မှုဇယားများ၊

(ဂ) မြေပိုင်ဆိုင်မှုအထောက်အထားများ၊

(ဃ) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေးအထောက်အထားများ၊

(င) သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများ(မူကြမ်း)။

လျှောက်ထားသူ

(signature)

ဦးအောင်ဝင်း
အုပ်ချုပ်မှုဒါရိုက်တာ
မြန်မာရွှေဧရာကုမ္ပဏီလီမိတက်

